ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၉ /၂၀၁၇ (မနသ)

၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၁၆ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)အား မန္တလေးတိုင်းဒေသကြီး၊ မန္တလေးခရိုင်၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၄၈)၊ရေကြည်အရှေ့ကွင်း၊ ဦးပိုင်ပေါင်း ၉၉ ကွက်ရှိမြေဧရိယာ(၃၇၂.၉၂)ဧကအနက် မြေဧရိယာ (၆.၅) ဧကတွင် ရေတံခွန်တောင် နိုင်ငံတကာ အဆင့်မီ ဆေးရုံလုပ်ငန်းဆောင်ရွက်ရန် ကော်မရှင်မှ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်နေ့ ရက်စွဲပါ ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၂၁၉/၂၀၁၆ ဖြင့် ခွင့်ပြုခဲ့ပြီး အမိန့်ကြော်ငြာစာအမှတ် ၁၁၂/၂၀၁၆ (မနသ) ကို ထုတ်ပေးခဲ့ပါသည်။

၂။ ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်အား ခွင့်ပြုထားသောလုပ်ငန်းနှင့်ပတ်သက်၍ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၂၁ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂/၂၀၁၇) ကြိမ်မြောက် အစည်းအဝေး မှ "မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီ နှင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုသော သဘောတူစာချုပ် စာပိုဒ် ၃-၀၂ ပါ မြေလွှဲပြောင်းမှုကိစ္စသည် မြေယာဥပဒေအရ ညီညွတ်ခြင်း မရှိပါသဖြင့် ကော်မရှင်မှ ထုတ်ပေးထားသော အမိန့်ကြော်ငြာစာပါ အပိုဒ်-၉ ကို ပယ်ဖျက်ရန်" ဆုံးဖြတ်ခဲ့ပါသည်။

၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးခဲ့သော အမိန့်ကြော်ငြာစာအမှတ်၊ ၁၁၂/၂၀၁၆(မနသ)၏ စာပိုဒ်(၉)တွင် "မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီမှ စီမံခန့်ခွဲပိုင်ခွင့်ရှိသော မြေဧရိယာ (၂၁၇.၈၀) ဧကအနက် မြေဧရိယာ (၆.၅) ဧကတွင် ရေတံခွန်တောင် နိုင်ငံတကာအဆင့်မီ ဆေးရုံလုပ်ငန်းဆောင်ရွက်ရန်အတွက် Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ်ကုမ္ပဏီ လီမိတက်)သို့ အပြီးအပိုင် လွှဲပြောင်းပေးရမည်" ဟူသော စာပိုဒ်အား ဤအမိန့်ကြော်ငြာစာဖြင့် ပယ်ဖျက်လိုက်သည်။

16.2.17

(ကျော်ဝင်း)

ဥက္ကဋ္ဌ

စာအမှတ်၊မရက-၅(အ) /မ- ၀၁၂/၂၀၁၇ (၀၆၅-(၁))

ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၁၆ ရက်

**ဖြန့်ဝေခြင်း**

ပြည်ထောင်စု အစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

ကန့်သတ်

သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန
လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး ၊မန္တလေးမြို့
ညွှန်ကြားရေးမှူးချုပ်၊ အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လျှပ်စစ်ဓါတ်အားပို့လွှတ်ရေးနှင့် ကွပ်ကဲရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုသရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းမျာမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီ၊ မန္တလေးမြို့
မန်နေဂျင်း ဒါရိုက်တာ ၊ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)

## ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၂၁ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂/၂၀၁၇) ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်

| | | |
|---|---|---|
| (ဓ) | ဖွံ့ဖြိုးသစ်ကုမ္ပဏီနှင့်ပတ်သက်၍ ကော်မရှင်မှ ထုတ်ပေးထားသော အမိန့်ကြော်ငြာစာပါ အပိုဒ်-၉ ကို ပယ်ဖျက်ရန်၊ မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီ နှင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုသော သဘောတူစာချုပ် စာပိုဒ် ၃-၁၂ ပါ မြေလွှဲပြောင်းမှုကိစ္စသည် မြေယာဥပဒေအရ ညီညွတ်ခြင်း မရှိပါသဖြင့် ပယ်ဖျက်ပေးရန် မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီသို့ အကြောင်းကြားရန် နှင့် မပယ်ဖျက်နိုင်ပါက ခွင့်ပြုမိန့် ပြန်လည်ရုပ်သိမ်းရန်အတွက် စဉ်းစားရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |